ပုံစံ(မနသ-၂)

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

## ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ်၊ မနသ- ၆၇၀ / ၂၀၀၇ ။ ၂၀၀၇ ခုနှစ်၊ မေ လ ၂၄ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏ အမည် ဦး လှဒေါ်

(ခ) အဘအမည် ဦး ဟော ရွှေဝိသိ

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ၁၃/ကခန(နိုင်)၀၃၂၁၃၅

(ဃ) နေရပ်လိပ်စာ အမှတ်(A/ 7-2)၊ အနော်ရထာအိမ်ယာ၊ ပြည်လမ်း၊ ကမာရွတ်မြို့နယ်၊

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း လင်း အောင်အင်ဒတ်စထရီရယ်အင်(န်) ပရိုဒတ်ရှင်ကုမ္ပဏီလီမိတက် (Lin Aung Industrial & Production Co;Ltd)

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား (၂၅)တန်ကျ ရေခဲစက်နှင့်တန်(၂၀၀)ဆန့် အအေးခန်းစက်ရုံတည်ဆောက်၍ ရေခဲနှင့်ငါး၊ ပုစွန်ပြုပြင်ထုတ်လုပ်ခြင်းလုပ်ငန်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ(များ) ရန်ကုန်ပြည်နယ်၊ သံတွဲခရိုင်၊ တောင်ကုတ်မြို့နယ်၊ ကြီးကြာကွင်းကျေးရွာအုပ်စု၊ ကွင်းအမှတ်(၆၇-ခ)၊ ဦးပိုင်အမှတ်(၁၂၂)၊

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) အမေရိကန်ဒေါ်လာ(၁၅၀၀၀) ပါအဝင်စုစုပေါင်း ကျပ်(၁၄၃.၂၃)သန်း (ကျပ်တစ်ရာ လေးဆယ့်သုံးသန်း၊ နှစ်သိန်း၊ သုံး သောင်း)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

လျှို့ဝှက်

# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အမိန့်ကြော်ငြာစာအမှတ်၊ ၃/၂၀၀၇(မနသ)
ရန်ကုန်မြို့၊၁၃၆၉ ခုနှစ်၊ ကဆုန်လဆန်း ၉ ရက်
(၂၀၀၇ ခုနှစ်၊ ဧပြီ လ ၂၄ ရက်)

၁။ မြန်မာကုမ္ပဏီ ဖြစ်သော လင်းအောင် အင်ဒတ်စထရီရယ် အင်(န်)ပရိုဒတ်ရှင် ကုမ္ပဏီ လီမိတက် (Lin Aung Industrial & Production Co., Ltd )သည် ရခိုင်ပြည်နယ်၊ သံတွဲခရိုင်၊ တောင်ကုတ်မြို့နယ်၊ ကြိုးကြာကွင်း ကျေးရွာအုပ်စု၊ ကွင်းအမှတ်(၆၇-ခ)၊ ဦးပိုင်အမှတ် (၈၂၂)ရှိ ကုမ္ပဏီမှ ဝယ်ယူထားသော စက်ရုံမြေ (၃.၀၁) ဧက (၁၂၁၈၁.၀၅ စတုရန်းမီတာ) တွင် (၂၅)တန်ကျ ရေခဲစက်နှင့် တန်(၂၀၀) ဆန့် အအေးခန်း စက်ရုံ တည်ဆောက်၍ ရေခဲနှင့်ငါး၊ပုစွန် ပြုပြင်ထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြလာပါသည်။ ယင်းတင်ပြချက်အား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၄/၂၀၀၅) (၁၉-၄-၂၀၀၅) နှင့် (၃၈/၂၀၀၆)(၁၃-၁၁-၂၀၀၆)အစည်းအဝေး၊ ကုန်သွယ်မှု မူဝါဒကောင်စီ၏ (၂၂/၂၀၀၅)(၂၉-၆-၂၀၀၅)၊ (၄၂/၂၀၀၆) (၂၉-၁၁-၂၀၀၆) နှင့် (၇/၂၀၀၇) (၂၀-၂-၂၀၀၇)အစည်းအဝေးများ သို့ တင်ပြခဲ့ပါသည်။ ယင်းအစည်းအဝေးမှခွင့်ပြုရန်သဘောတူ ၍ (၂၉-၃-၂၀၀၇) နေ့တွင် ကျင်းပပြုလုပ်သည့် ပြည်ထောင်စု မြန်မာနိုင်ငံတော်အစိုးရအဖွဲ့၏ (၁၁/၂၀၀၇) အစည်းအဝေးသို့ တင်ပြခဲ့ရာ သဘောတူကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၅)၊ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့် များကို ကျင့်သုံးလျှက် လင်းအောင် အင်ဒတ်စထရီရယ် အင်(န်) ပရိုဒတ်ရှင် ကုမ္ပဏီလီမိတက် ( Lin Aung Industrial & Production Co., Ltd )အား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ နှင့် အညီ (၂၅)တန်ကျ ရေခဲစက်နှင့် တန်(၂၀၀)ဆန့် အအေးခန်း စက်ရုံ တည်ဆောက်၍ ရေခဲနှင့် ငါး၊ပုစွန်များ ပြုပြင် ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန်အတွက် ခွင့်ပြုမိန့်အမှတ်၊ မနသ - ၆၇၈ /၂၀၀၇ ကိုထုတ်ပေးလိုက်သည်။

၂။ လင်းအောင် အင်ဒတ်စထရီရယ် အင်(န်) ပရိုဒတ်ရှင် ကုမ္ပဏီလီမိတက် (Lin Aung Industrial & Production Co., Ltd ) အနေဖြင့် ဤခွင့်ပြုမိန့် အရ ထုတ်လုပ်မှုနှင့် ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၇) ၊ပုဒ်မ ၁၂ အရ ကုန်ထုတ်လုပ်မှု နှင့် ဝန်ဆောင်မှု လုပ်ငန်း စတင်သော နှစ်အပါအဝင် တစ်ဆက်တည်း (၃)နှစ်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုသည်။

၃။ လင်းအောင်အင်ဒတ်စထရီရယ်အင်(န်)ပရိုဒတ်ရှင်ကုမ္ပဏီလီမိတက် (Lin Aung Industrial & Production Co., Ltd ) သည် ဤခွင့်ပြုမိန့်အရ လုပ်ငန်း ဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် ထုတ်လုပ်မှု ၊ဝန်ဆောင်မှုနှင့် ပြည်ပတင်ပို့မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များ အဖြစ် ထားရှိဆောင်ရွက် အကောင်အထည် ဖော် ရမည်။

လျှို့ဝှက်

၄။ လင်းအောင် အင်ဒတ်စထရီရယ် အင်(န်) ပရိုဒတ်ရှင် ကုမ္ပဏီလီမိတက် (Lin Aung Industrial & Production Co., Ltd ) သည် ဤအဆိုပြုလုပ်ငန်း၏ စာရင်းများကို သီးခြားပြုစု ထားရှိရမည်။

၅။ ၄င်းအပြင် လင်းအောင် အင်ဒတ်စထရီရယ် အင်(န်) ပရိုဒတ်ရှင် ကုမ္ပဏီ လီမိတက် ( Lin Aung Industrial & Production Co., Ltd ) သည် ရခိုင်ပြည်နယ်၊သံတွဲမြို့နယ်တွင် ကော်မရှင်ခွင့်ပြုမိန့် ရယူပြီး အလားတူလုပ်ငန်းမျိုး ဆောင်ရွက်လျှက်ရှိသဖြင့် တောင်ကုတ်မြို့နယ်တွင် ဆောင်ရွက်မည့် ယခုအဆိုပြု လုပ်ငန်း၏ အခွန်ဆိုင်ရာကိစ္စရပ်များကို မြို့နယ်အလိုက် သီးခြားစီဆောင်ရွက်ရမည်။

၆။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော်အစိုးရမှ မြေယာနှင့် ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။

၇။ လင်းအောင် အင်ဒတ်စထရီရယ် အင်(န်) ပရိုဒတ်ရှင် ကုမ္ပဏီလီမိတက် (Lin Aung Industrial & Production Co., Ltd ) မှ နိုင်ငံခြားသား ကျွမ်းကျင်သူများ ငှားရမ်းခွင့် ကိစ္စနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေဆိုင်ရာ လုပ်ထုံးလုပ်နည်းများ အခန်း(၉)၊ အပိုဒ် ၃၃ ပါ သတ်မှတ်ချက်များ နှင့် အညီ ဤကော်မရှင်သို့ သီးခြားတင်ပြ လျှောက်ထားရမည်၊ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန် အတွက် ပြည်တွင်း လုပ်သားများ ခန့်ထားရာတွင် အလုပ်သမား ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာနနှင့် ညှိနှိုင်းဆောင်ရွက်ရမည်။

၈။ လင်းအောင် အင်ဒတ်စထရီရယ် အင်(န်) ပရိုဒတ်ရှင် ကုမ္ပဏီလီမိတက် (Lin Aung Industrial & Production Co., Ltd )သည် ဤခွင့်ပြုမိန့် အရ ထုတ်လုပ်မှုနှင့် ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်လေထု၊ ရေထု၊ မြေထုညစ်ညမ်းမှု၊မီးဘေးအန္တရာယ် စသည်များ၊မဖြစ်ပေါ်လာစေရန် အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံ ကတိပြုထားသည့် အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားရှိမှု အခြေအနေကို ဤကော်မရှင်သို့ <u>မပျက်မကွက်</u> အစီရင်ခံရမည်။ပတ်ဝန်းကျင် အနံ့ဆိုးများ ဖြစ်ပေါ်စေပြီး ပတ်ဝန်းကျင် ညစ်ညမ်းမှု ဖြစ်ပေါ်၍ တိုင်ကြားလာပါက စက်ရုံပိတ်သည်အထိ အရေးယူခြင်းခံရမည်။

၉။ လင်းအောင် အင်ဒတ်စထရီရယ် အင်(န်) ပရိုဒတ်ရှင် ကုမ္ပဏီလီမိတက် (Lin Aung Industrial & Production Co., Ltd ) သည် ပူးတွဲပါ ကနဦးလုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့် ရရှိပြီး (၃)လအတွင်း ဤကော်မရှင်သို့ <u>မပျက်မကွက်</u> အစီရင်ခံရမည်။ ထို့အပြင် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၆)လ တစ်ကြိမ် (ဧပြီ / အောက်တိုဘာ လများ) <u>မပျက်မကွက်</u> ပုံမှန်ပေးပို့ အစီရင်ခံရမည်။ အဆိုပြုလုပ်ငန်း စီးပွားဖြစ် စတင် ဆောင်ရွက်သည့်နေ့ကို စီးပွားဖြစ်စတင်ပြီး (တစ်)လအတွင်း ဤကော်မရှင်သို့ <u>မပျက်မကွက်</u> အစီရင် ခံရမည်။

၁၀။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှု ပြုလုပ် သည့် နေရပ်ဒေသလိပ်စာနှင့်ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ ( ကုမ္ပဏီ၏ ရုံးခန်း လိပ်စာ နှင့်

တယ်လီဖုန်း နံပါတ်)တို့ ပြောင်းလဲမှု ရှိတိုင်း ဤကော်မရှင်သို့ မပျက်မကွက် တင်ပြ၍ အတည်ပြု ခွင့်ပြုချက် ကို ရယူရမည်။

၁၁။ လင်းအောင် အင်ဒတ်စထရီရယ် အင်(န်) ပရိုဒတ်ရှင် ကုမ္ပဏီလီမိတက် (Lin Aung Industrial & Production Co., Ltd ) သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် နှင့် သက်ဆိုင်ရာဝန်ကြီးဌာန များမှ ချမှတ် ထားသော တည်ဆဲ စည်းမျဉ်းစည်းကမ်း သတ်မှတ်ချက်များကို လိုက်နာ ဆောင်ရွက် ခြင်းမရှိကြောင်း စစ်ဆေးတွေ့ရှိပါက ဤခွင့်ပြုမိန့်ကို ပြန်လည် ရုပ်သိမ်းသည်အထိ အရေးယူခြင်း ခံရမည်။

၁၂။ အဆိုပြုလုပ်ငန်းကိုမြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့် အညီဆောင်ရွက်မည် ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် တစ်နည်း နည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာက စစ်ဆေးတွေ့ရှိလျှင် ပုဂ္ဂလိကစက်မှုလုပ်ငန်း မှတ်ပုံတင်ကို ပယ်ဖျက်ပြီး စက်ရုံ ပိတ်သိမ်း နိုင်ရေးအတွက် သက်ဆိုင်ရာ အစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်း ဆောင်ရွက်မည့် အပြင် လုပ်ငန်း အဆိုပြုသူသည် မြန်မာနိုင်ငံ သားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၅ (င) အရ နောင်တွင် မည်သည့် ခွင့်ပြုမိန့်မျှထုတ်ပေးမည် မဟုတ်သော နာမည်ပျက်စာရင်းတွင် ထည့်သွင်း ခြင်းခံရမည်။

၁၃။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့်နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်း စတင် ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီးဖြစ်သည်ဟု မှတ်ယူ ရမည်။

(ဦးသောင်း)

ဥက္ကဋ္ဌ

စာအမှတ်၊ရက-၆(က)/မ-၉၅၃/၂၀၀၇ ( ၁၈၆၂ )

ရက်စွဲ ၊၂၀၀၇ ခုနှစ်၊ ဧပြီ လ ၂၄ ရက် ။

ဖြန့်ဝေခြင်း-

၁။ နိုင်ငံတော် အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီဥက္ကဋ္ဌရုံး။

၂။ နိုင်ငံတော် အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီရုံး။

၃။ အစိုးရအဖွဲ့ရုံး။

၄။ ရခိုင်ပြည်နယ်အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီရုံး။

၅။ မွေးမြူရေးနှင့်ရေလုပ်ငန်း ဝန်ကြီးဌာန။

၆။ အမျိုးသားစီမံကိန်းနှင့် စီးပွားရေးဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။

၇။ အလုပ်သမား ဝန်ကြီးဌာန။

၈။ စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။

၉။ ဆက်သွယ်ရေး၊ စာတိုက်နှင့် ကြေးနန်း ဝန်ကြီးဌာန။

၁၀။ ဘဏ္ဍာရေးနှင့် အခွန် ဝန်ကြီးဌာန။

၁၁။ ပြည်ထဲရေး ဝန်ကြီးဌာန။

၁၂။ ဥက္ကဋ္ဌ၊ နိုင်ငံခြားမတည်ငွေရင်းတန်ဘိုး သတ်မှတ်ရေး အဖွဲ့ငယ်။

၁၃။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။

၁၄။ ညွှန်ကြားရေးမှူးချုပ်၊ ငါးလုပ်ငန်းဦးစီးဌာန။

၁၅။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများညွှန်ကြားမှု ဦးစီးဌာန။

၁၆။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမား ညွှန်ကြားရေးဦးစီးဌာန။

၁၇။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။

၁၈။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေး လုပ်ငန်း။

၁၉။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။

၂၀။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန။

၂၁။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့အာမခံ လုပ်ငန်း။

၂၂။ ဦးဆောင်ညွှန်ကြားရေးမှူး၊မြန်မာ့ရင်းနှီးမြှုပ်နှံမှုနှင့်ကူးသန်းရောင်းဝယ်ရေးဘဏ်။

၂၃။ ဥက္ကဋ္ဌ၊ ပြည်ထောင်စုမြန်မာနိုင်ငံ ကုန်သည်များနှင့် စက်မှုလက်မှုလုပ်ငန်းရှင်များ အသင်းချုပ်။

၂၄။ ဦးစီးမှူး၊မြို့နယ်အခွန်ဦးစီးဌာန၊တောင်ကုတ်မြို့၊ရခိုင်ပြည်နယ်။

၂၅။ အုပ်ချုပ်မှုဒါရိုက်တာ၊လင်းအောင်အင်ဒတ်စထရီရယ်အင်(န်)ပရိုဒတ်ရှင်ကုမ္ပဏီလီမိတက်(Lin Aung Industrial & Production Co.,Ltd )

ထိပ်တန်းလျှို့ဝှက်

ပြည်ထောင်စုမြန်မာနိုင်ငံတော်
အစိုးရအဖွဲ့

စာအမှတ်၊ ၁၁ / ၂၀၀၇ အဖရ ၂၀၀၇ ( ၁၂ )။
ရက်စွဲ၊ ၂၀၀၇ ခုနှစ်၊ ဧပြီလ ၅ ရက်။

# အ မှာ စာ

အကြောင်းအရာ။ **လင်းအောင် အင်ဒတ်စထရီရယ် အင်(န်) ပရိုဒတ်ရှင်ကုမ္ပဏီ လီမိတက် (Lin Aung Industrial & Production Co., Ltd) မှ (၂၅)တန်ကျ ရေခဲစက်နှင့် တန်(၂၀၀)ဆန့် အအေးခန်းစက်ရုံ တည်ဆောက်၍ ရေခဲ နှင့်ငါး၊ ပုစွန် ပြုပြင်ထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ရန် အဆိုပြုတင်ပြ ခြင်း ကိစ္စ။**

၁။ ၂၀၀၇ ခုနှစ် ၊ မတ်လ ၂၉ ရက် ( ကြာသပတေး ) နေ့တွင် ကျင်းပပြုလုပ်သော ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် ( ၁၁ /၂၀၀၇ ) မှတ်တမ်း ကောက်နုတ်ချက်ကို ဆောင်ရွက်နိုင်ပါရန် ပေးပို့အပ်ပါသည်။

၂။ မှတ်တမ်းကောက်နုတ်ချက်ကို ရရှိကြောင်း ပြန်ကြားရန်နှင့် ဌာနဆိုင်ရာ အရေးယူ ဆောင်ရွက်ချက်ကိုလည်း ပြန်လည် အစီရင်ခံ တင်ပြရန် ဖြစ်ပါသည်။

DD/Co-or

အတွင်းရေးမှူး(ကိုယ်စား)
(အောင်လွင်ဦး)

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်။**

၁၂။ လင်းအောင် အင်ဒတ်စထရီရယ် အင်(န်) ပရိုဒတ်ရှင်ကုမ္ပဏီ လီမိတက်(Lin Aung Industrial & Production Co., Ltd) မှ (၂၅)တန်ကျ ရေခဲစက်နှင့် တန်(၂၀၀)ဆန့် အအေးခန်းစက်ရုံ တည်ဆောက်၍ ရေခဲ နှင့်ငါး၊ပုစွန် ပြုပြင်ထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ရန် အဆိုပြုတင်ပြ ခြင်းကိစ္စ။

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၀၇ ခုနှစ်၊ မတ်လ ၂၁ ရက်နေ့စွဲပါ အမှာစာအမှတ်၊ ရက-၆(ခ)/မ-၁၄၂၂/၂၀၀၇(၁၁၉၁-ဆ)။

အမှာစာ၏ ဆုံးဖြတ်ရန်အချက် (က)နှင့် (ခ)တို့ကို သဘောတူ ကြောင်းဆုံးဖြတ်ကြသည်။ ဆောင်ရွက်ရန်၊ ရင်းနှီးမြှုပ်နှံမှု။

ထိပ်တန်းလျှို့ဝှက်

ပြည်ထောင်စု မြန်မာနိုင်ငံတော်
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

စာအမှတ်၊ ရက-၆(ခ)/မ-၁၄၂၂/၂၀၀၇(၁၁၉၁.ဈ)
ရက်စွဲ၊ ၂၀၀၇ ခုနှစ်၊ မတ်လ ၂၁ ရက်။

ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့သို့ တင်ပြသည့်
အမှာစာ

အကြောင်းအရာ။ ။ လင်းအောင် အင်ဒတ်စထရီရယ် အင်(န်) ပရိုဒတ်ရှင် ကုမ္ပဏီ လီမိတက် (Lin Aung Industrial & Production Co., Ltd.) မှ (၂၅)တန်ကျ ရေခဲစက်နှင့် တန်(၂၀၀)ဆန့် အအေးခန်း စက်ရုံ တည်ဆောက်၍ ရေခဲနှင့် ငါး၊ ပုစွန် ပြုပြင် ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြုတင်ပြခြင်းကိစ္စ။

၁။ မြန်မာကုမ္ပဏီဖြစ်သော လင်းအောင် အင်ဒတ်စထရီရယ် အင်(န်) ပရိုဒတ်ရှင် ကုမ္ပဏီ လီမိတက် (Lin Aung Industrial & Production Co., Ltd.) သည် ရခိုင်ပြည်နယ်၊ သံတွဲခရိုင်၊ တောင်ကုတ်မြို့နယ်၊ ကြိုးကြာကွင်း ကျေးရွာအုပ်စု၊ ကွင်းအမှတ် (၆၇-ခ)၊ ဦးပိုင်အမှတ်(၈၂၂)ရှိ ကုမ္ပဏီမှ ဝယ်ယူထားသော စက်ရုံမြေ(၃.၀၁)ဧက (၁၂၁၈၁.၀၅ စတုရန်းမီတာ) တွင် (၂၅)တန်ကျ ရေခဲစက်နှင့် တန် (၂၀၀) ဆန့် အအေးခန်းစက်ရုံ တည်ဆောက်၍ ရေခဲနှင့် ငါး၊ ပုစွန် ပြုပြင် ထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ရန် အဆိုပြု တင်ပြလာပါသည်။ ယင်းအဆိုပြုချက်ကို (၂၉-၆-၂၀၀၅) နေ့တွင် ကျင်းပသည့် ကုန်သွယ်မှု မူဝါဒ ကောင်စီ၏ (၂၂/၂၀၀၅) အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။ ကုန်သွယ်မှု မူဝါဒ ကောင်စီ အစည်းအဝေးမှ ယင်းအဆိုပြုတင်ပြခြင်း ကိစ္စကို ပြည်ထဲရေး ဝန်ကြီးဌာနက စစ်ဆေးပြီးမှ တင်ပြရန် ဆုံးဖြတ်ခဲ့ပါသည်။

၂။ အထက်ပါ ကုန်သွယ်မှု မူဝါဒ ကောင်စီ အစည်းအဝေး ဆုံးဖြတ်ချက် နှင့်အညီ (၆-၈-၂၀၀၅) ရက်စွဲပါ စာဖြင့် ပြည်ထဲရေး ဝန်ကြီးဌာနမှ အဓိက တင်ပြချက်များမှာ-

(က) လင်းအောင် ကုမ္ပဏီသည် ဂျပန်နိုင်ငံရှိ Matsuoka Co., Ltd. နှင့် အကျိုးတူ ပူးပေါင်းကာ Myanmar Sunrise Co., Ltd. အမည်ဖြင့် ၁၉၉၈ ခုနှစ်မှ ၂၀၀၂ခုနှစ် အထိ ရေလုပ်ငန်း ဆောင်ရွက်ခဲ့ရာ အခွန်ငွေ အမေရိကန်ဒေါ်လာ (၂၅၄၇၂၃) နိုင်ငံတော်သို့ ပေးသွင်းရန် ကျန်ရှိနေပါကြောင်း၊

(ခ) ထို့ပြင် ရခိုင်ပြည်နယ်၊ သံတွဲမြို့နယ်တွင် လင်းအောင် ကုမ္ပဏီမှ ကော်မရှင် ခွင့်ပြုမိန့်ဖြင့် အအေးခန်းစက်ရုံလုပ်ငန်း ဆောင်ရွက်လျက်ရှိရာ(၂၀၀၂-၂၀၀၃) ခုနှစ် မှ (၂၀၀၄-၂၀၀၅) ခုနှစ် အထိ အခွန်ငွေ အမေရိကန်ဒေါ်လာ နှင့် ကျပ်ငွေများ ပေးဆောင်ရန် ကျန်ရှိနေကြောင်း ပြည်ထဲရေး ဝန်ကြီးဌာနမှ စိစစ်တင်ပြထား ပါသည်။

၃။ လင်းအောင် အင်ဒတ်စထရီရယ် အင်(န်) ပရိုဒတ်ရှင် ကုမ္ပဏီ လီမိတက်နှင့် Myanmar Sunrise Co., Ltd. တို့အပေါ် (၂၀၀၅-၂၀၀၆) စည်းကြပ်နှစ်အထိ အပြီးသတ်စည်းကြပ်မှုများ ဆောင်ရွက်ပြီးဖြစ်ပါကြောင်း နှင့်စပ်လျဉ်း၍ (၂၉-၁၁-၂၀၀၆) နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် ကုန်သွယ်မှု မူဝါဒ ကောင်စီ ၏ (၄၂/၂၀၀၆) အစည်းအဝေးမှ "အဆိုပြုလုပ်ငန်း ဆောင်ရွက် ခွင့်ပြုရန် တင်ပြခြင်းနှင့် စပ်လျဉ်း၍ ပေးဆောင်ရန်ကျန်ရှိနေသော အခွန်ကြွေးကျန်များ အမှန်တကယ် ပေးဆောင်ပြီးခြင်း ရှိ-မရှိ ကို ဘဏ္ဍာရေးနှင့် အခွန်ဝန်ကြီးဌာနမှ ပြန်လည် စိစစ်၍ တင်ပြရန်" ဆုံးဖြတ်ခဲ့ ပါသည်။

၄။ လင်းအောင် အင်ဒတ်စထရီရယ် အင်(န်) ပရိုဒတ်ရှင် ကုမ္ပဏီ လီမိတက် နှင့် Myanmar Sunrise Co., Ltd. တို့အပေါ် ၂၀၀၅-၂၀၀၆ စည်းကြပ်နှစ်အထိ အပြီးသတ်စည်းကြပ်မှုများ ဆောင်ရွက်ပြီး ဖြစ်ပါကြောင်းနှင့် နှစ်အလိုက် စည်းကြပ်မှုအရ တောင်းခံအခွန်များ အားလုံးကိုလည်း ပေးသွင်းပြီး ဖြစ်ပါကြောင်း၊ ဘဏ္ဍာရေးနှင့် အခွန် ဝန်ကြီးဌာနမှ ပြန်ကြားလာသဖြင့် (၂၀-၂-၂၀၀၇) နေ့တွင် ကျင်းပပြုလုပ် ခဲ့သည့် ကုန်သွယ်မှု မူဝါဒကောင်စီ၏ (၇/၂၀၀၇) အစည်းအဝေးသို့ တင်ပြခဲ့ရာ အစည်းအဝေးမှ အောက်ပါအတိုင်း ဆုံးဖြတ်ခဲ့ပါသည်။

(က) အဆိုပြုတင်ပြခြင်း လုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုရန်၊
(ခ) မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ (၁၂) အရ စီးပွားရေး လုပ်ငန်း စတင်သောနှစ်အပါအဝင် တစ်ဆက်တည်း(၃)နှစ်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုရန်၊
(ဂ) အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြရန်၊
(ဃ) အဆိုပါ လင်းအောင် အင်ဒတ်စထရီရယ် အင်(န်) ပရိုဒတ်ရှင် ကုမ္ပဏီ လီမိတက် (Lin Aung Industrial & Production Co., Ltd.)မှ တင်ပြထားသော လုပ်ငန်း အား အမှန်တကယ် ဆောင်ရွက်ခြင်း ရှိမရှိကို စောင့်ကြည့်ရန်။

၅။ အထက်ပါဆုံးဖြတ်ချက်အရ လင်းအောင်အင်ဒတ်စထရီရယ် အင်(န်)ပရိုဒတ်ရှင်ကုမ္ပဏီ လီမိတက်မှ (၂၅)တန်ကျ ရေခဲစက်နှင့် တန်(၂၀၀)ဆန့် အအေးခန်းစက်ရုံ တည်ဆောက်၍ ရေခဲနှင့် ငါး၊ ပုစွန်ပြုပြင် ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ကို မြန်မာ နိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ခွင့်ပြုပြီးသည့် အအေးခန်းစက်ရုံ အရေအတွက်စာရင်း (ပူးတွဲ)ဖြင့် အစိုးရအဖွဲ့သို့ ဆက်လက် တင်ပြခြင်း ဖြစ်ပါသည်။အဆိုပြုချက်ကို နောက်ဆက်တွဲ(၁)ဖြင့် တင်ပြအပ်ပါသည်။

၆။ လုပ်ငန်း၏ မတည်ငွေရင်း ပမာဏမှာ အမေရိကန်ဒေါ်လာ (၀.၀၈၅) သန်း အပါအဝင် စုစုပေါင်း ကျပ် (၁၄၃.၂၃) သန်း ဖြစ်ပါသည်။ အမေရိကန်ဒေါ်လာ (၀.၀၈၅) သန်း၊ တန်ဖိုးရှိ စက်ပစ္စည်းများကို စင်ကာပူနိုင်ငံရှိ Speed Freeze Technology မှ ဝယ်ယူရန် Proforma Invoice နှင့် ကျပ် (၁၆.၆၀၂) သန်း တန်ဖိုးရှိ စက်ပစ္စည်းများကို Eon Engineering & General Trading Co., Ltd. မှ ဝယ်ယူရန် Proforma Invoice များ တင်ပြထားပါသည်။

၇။ အအေးခန်း စက်ရုံလုပ်ငန်းမှ ထွက်သော ကုန်ချောများကို ပြည်ပသို့ ရာခိုင်နှုန်းပြည့် တင်ပို့၍ ရေခဲကို ပြည်တွင်းတွင် ရောင်းချမည် ဖြစ်ပါသည်။ ၎င်းအပြင် ဝန်ဆောင်မှု လုပ်ငန်း အဖြစ် ငါး၊ ပုစွန် ပြုပြင်အေးခဲသည့် လုပ်ငန်းကို ဆောင်ရွက်မည် ဖြစ်ပါသည်။ ပုံမှန်နှစ်ရှိ ထုတ်လုပ်မှု နှင့် ဝန်ဆောင်မှုများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

| စဉ် | အမျိုးအမည် | ရေတွက်ပုံ | ထုတ်လုပ်မှု | ဝန်ဆောင်မှု |
|---|---|---|---|---|
| ၁။ | Prawn | မက်ထရစ်တန် | ၁၈၀ | ၁၀၀၀ |
| ၂။ | Fish | မက်ထရစ်တန် | ၂၀၀ | ၁၂၀၀၀ |
| ၃။ | Ice | တုံး | ၅၆၀၀၀ | - |

၈။ လုပ်ငန်း၏ အရင်းကြေကာလမှာ (၂)နှစ် နှင့် (၁၁)လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR)မှာ (၂၈.၂၈) ရာခိုင်နှုန်း ဖြစ်ပါသည်။

၉။ လုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

(က) ဝင်ငွေခွန် — အမေရိကန်ဒေါ်လာ ၀.၂၈ သန်း
ကျပ် ၅.၃၈ သန်း

(ခ) ကုန်သွယ်လုပ်ငန်းခွန် — အမေရိကန်ဒေါ်လာ ၀.၂၁ သန်း
ကျပ် ၄.၃၃ သန်း

၁၀။ လုပ်ငန်းကို ဆောင်ရွက်ရန် ပြည်တွင်းမှလုပ်သား (၉၀)ဦးနှင့် ပြည်ပမှ လုပ်သား (၁)ဦး ခန့်ထား ဆောင်ရွက်မည် ဖြစ်ပါသည်။

၁၁။ လျှပ်စစ် ဓါတ်အား သုံးစွဲမှုနှင့် ပတ်သက်၍ ကိုယ်ပိုင် မီးစက်ဖြင့် အသုံးပြုမည် ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၂။ မွေးမြူရေးနှင့် ရေလုပ်ငန်း ဝန်ကြီးဌာနမှ အဆိုပြုချက်နှင့် ပတ်သက်၍ ကန့်ကွက်ရန် မရှိကြောင်းနှင့် ခွင့်ပြုဆောင်ရွက်စေသင့်ကြောင်း သဘောထား ပြန်ကြားထားပါသည်။

၁၃။ မြန်မာ့ရင်းနှီးမြှုပ်နှံမှုနှင့် ကူးသန်းရောင်းဝယ်ရေးဘဏ်ရှိ Lin Aung Industrial & Production Co., Ltd. ၏ နိုင်ငံခြားငွေများမှာ Export Earning (ရေထွက်ပစ္စည်း)မှ ရရှိငွေ မှန်ကန်ပါကြောင်း စိစစ်ပြန်ကြားထားပါသည်။

၁၄။ ရခိုင်ပြည်နယ် အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေး ကောင်စီက အအေးခန်းစက်ရုံ တည်ဆောက်ခွင့်ကို ဝန်ကြီးဌာနနှင့် သက်ဆိုင်ရာဌာနများက သဘောတူပါက ကန့်ကွက်ရန် မရှိကြောင်း ပြန်ကြားထားပါသည်။

၁၅။ စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာနမှ Eon Engineering & General Trading Co., Ltd. သို့စက်ပစ္စည်းများ တင်သွင်းရန်အတွက် ခွင့်ပြုခဲ့သော သွင်းကုန်လိုင်စင်များမှာ ပို့ကုန်ရငွေနှင့် လွှဲပြောင်းရငွေများဖြင့် ခွင့်ပြုပေးခဲ့ခြင်း ဖြစ်ပါကြောင်း ပြန်ကြားထားပါသည်။

၁၆။ ဘဏ္ဍာရေးနှင့် အခွန် ဝန်ကြီးဌာန၊ အကောက်ခွန် ဦးစီးဌာနက Eon Engineering & General Trading Co., Ltd. မှ ဝယ်ယူခဲ့သော စက်ပစ္စည်းများ၏ သွင်းကုန် ကြေငြာလွှာ (၂)စောင်အား စိစစ်ရာတွင် ကျသင့်သော သွင်းကုန်ခွန် ကျပ်(၇၈၇၂)နှင့် ကုန်သွယ်လုပ်ငန်းခွန် ကျပ်(၂၆၇၃) ပေးဆောင်ပြီး တင်သွင်းခြင်း ဖြစ်ပါကြောင်း ပြန်ကြားထားပါသည်။

၁၇။ အဆိုပြုတင်ပြစဥ့်ကလုပ်ငန်း၏ ငွေကြေးဆိုင်ရာ အထောက်အထားအဖြစ် Lin Aung Industrial & Production Co., Ltd. အမည်ဖြင့် မြန်မာ့ ရင်းနှီးမြှုပ်နှံမှုနှင့် ကူးသန်းရောင်းဝယ်ရေး ဘဏ်ရှိ (၃၁-၁၀-၂၀၀၆) နေ့ ငွေလက်ကျန် အမေရိကန်ဒေါ်လာ (၀.၃၉) သန်း တင်ပြထားသဖြင့် သုံးစွဲရန် နိုင်ငံခြားငွေ လုံလောက်မှုရှိကြောင်းနှင့် မွေးမြူရေးနှင့် ရေလုပ်ငန်း ဖွံ့ဖြိုးရေးဘဏ် လီမိတက်ရှိ (၃၀-၁၀-၂၀၀၆) နေ့ ငွေလက်ကျန်ကျပ် (၆၈.၅၄)သန်း တင်ပြထားရာ သုံးစွဲမည့်ကျပ်ငွေ၏ (၅၀)ရာခိုင်နှုန်း ရှိပါသည်။

၁၈။ အဆိုပြုလုပ်ငန်းနှင့်စပ်လျဥ်း၍ ပိုင်ဆိုင်မှု၊ ပတ်ဝန်းကျင်ထိန်းသိမ်းမှုကို ညွှန်ကြားချက်နှင့်အညီ လိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်း၊ ပတ်ဝန်းကျင် ညစ်ညမ်းမှု မရှိစေရန် Waste Water Treatment Plant တပ်ဆင်အသုံးပြုမည် ဖြစ်ကြောင်း ဝန်ခံကတိပြုထားပါသည်။

၁၉။ အဆိုပြု ကုမ္ပဏီအမည်ဖြင့် ရခိုင်ပြည်နယ်၊ သံတွဲမြို့နယ်တွင် (၂၅)တန်ကျ ရေခဲစက်နှင့် တန် (၁၀၀)ဆန့် အအေးခန်းစက်ရုံ လုပ်ငန်းကို ကော်မရှင်၏ ခွင့်ပြုမိန့်အမှတ် (မနသ-၅၃၁/၂၀၀၂) (၅-၂-၂၀၀၂) ဖြင့် လုပ်ငန်း ဆောင်ရွက်လျက် ရှိပါသည်။ ယခုတင်ပြသည့် တောင်ကုတ်မြို့နယ်ရှိ အဆိုပြုလုပ်ငန်းအား ခွင့်ပြုပါက အခွန်ဆိုင်ရာ ကိစ္စများကို မြို့နယ်အလိုက် သီးခြားစည်းကြပ်ရန် အမိန့်ကြော်ငြာစာတွင် ထည့်သွင်းထုတ်ပြန်မည်ဖြစ်ပါသည်။

၂၀။ ကုမ္ပဏီမှ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေဆိုင်ရာ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစား ခွင့်ပြုရန် လျှောက်ထားလာပါသည်။ ဥပဒေပုဒ်မ ၁၂ အရ စီးပွားရေး လုပ်ငန်း စတင်သောနှစ်အပါအဝင် တစ်ဆက်တည်း (၃)နှစ်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ပေးရမည် ဖြစ်ပါသည်။

၂၁။ <u>ဆုံးဖြတ်ရန်အချက်</u>

(က) လင်းအောင် အင်ဒတ်စထရီရယ် အင်(န်) ပရိုဒတ်ရှင် ကုမ္ပဏီ လီမိတက် (Lin Aung Industrial & Production Co., Ltd.) မှ (၂၅)တန်ကျ ရေခဲစက်နှင့် တန်(၂၀၀)ဆန့် အအေးခန်း စက်ရုံ တည်ဆောက်၍ ရေခဲနှင့် ငါး၊ ပုစွန် ပြုပြင် ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် သဘောတူ-မတူ။

(ခ) လုပ်ငန်းဆောင်ရွက်ခွင့်ပြုရန် သဘောတူပါက မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ အရ စီးပွားရေးလုပ်ငန်း စတင်သောနှစ်အပါအဝင် တစ်ဆက်တည်း(၃)နှစ်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုရန်သဘောတူ-မတူ။

၂၂။ <u>မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ထောက်ခံချက်</u>
အစိုးရအဖွဲ့၏ ဆုံးဖြတ်ချက်ကို နာခံပါမည်။

(ဦးသောင်း)
ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
ဝန်ကြီး၊ သိပ္ပံနှင့် နည်းပညာ ဝန်ကြီးဌာန။
ဝန်ကြီး၊ အလုပ်သမား ဝန်ကြီးဌာန။

<u>ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့။</u>

လျှို့ဝှက်

## ကုမ္ပဏီဒါရိုက်တာနှင့်အစုရှင်များ၏နေရပ်လိပ်စာစာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/ အစုရှင်များ၏ အမည် | ဒါရိုက်တာ/ အစုရှင်များ၏နေရပ်လိပ်စာ |
|---|---|---|---|
| ၁။ | လင်းအောင် အင်ဒတ်စထရီရယ် အင်(န်)ပရိုဒတ်ရှင် ကုမ္ပဏီ လီမိတက် (Lin Aung Industrial & Production Co.,Ltd) | ၁။ ဦးလောဒီ (မန်နေဂျင်းဒါရိုက်တာ)<br>၂။ ဦးအာမီ (ဒါရိုက်တာ)<br>၃။ ဦးကျော်ကံဦး (ဒါရိုက်တာ) | အမှတ်(က/ ၇-၂)၊အနော်ရထာအိမ်ယာ ၊ ပြည်လမ်း၊ကမာရွတ်မြို့နယ်၊ရန်ကုန်မြို့ ။<br>အမှတ်(က/ ၇-၂)၊အနော်ရထာအိမ်ယာ ၊ ပြည်လမ်း၊ကမာရွတ်မြို့နယ်၊ရန်ကုန်မြို့ ။<br>အမှတ် (၆၀/ က)၊ ထန်းတစ်ပင်လမ်း၊ (၁)ရပ်ကွက်၊အောင်မြေသာစည်အိမ်ယာ၊ ကမာရွတ်မြို့နယ်၊ရန်ကုန်မြို့ ။ |

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီ၏တယ်လီဖုန်းနံပါတ်၊ဖက်စ်နံပါတ် | – Tel . 0951-703731, 706578,534938<br>Fax : 0951-511168 |
| ၂။ | ကုမ္ပဏီ၏လိပ်စာအပြည့်အစုံ | – အမှတ် (၆၀/ဗ)၊ထန်းတစ်ပင်လမ်း၊ (၁)ရပ်ကွက်၊ အောင်မြေသာစည်အိမ်ယာ၊ကမာရွတ်မြို့နယ်၊ ရန်ကုန်မြို့ ။ |
| ၃။ | ကုမ္ပဏီ၏ဆက်သွယ်ရမည့်ပုဂ္ဂိုလ်အမည်၊ရာထူး | – ဦးလောဒီ (မန်နေဂျင်းဒါရိုက်တာ) |
| ၄။ | ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်းများ | – (၂၅)တန်ကျရေခဲစက်နှင့်တန်(၂၀၀)ဆန့်အအေးခန်း စက်ရုံ တည်ဆောက်၍ ရေခဲ နှင့် ငါး၊ ပုစွန် ပြုပြင်ထုတ်လုပ်ခြင်း |
| ၅။ | ကုမ္ပဏီမှတ်ပုံတင်အမှတ်/ နေ့စွဲ | – ၇၃၄/၁၉၉၆-၉၇(၁၆-၁-၁၉၉၆) |
| ၆။ | ကုမ္ပဏီမှတ်ပုံတင်သက်တမ်း ကုန်ဆုံးသည့်နေ့စွဲ | – ၂၈-၂-၂၀၀၇ |
| ၇။ | ဘဏ်အမည်နှင့်ဘဏ်စာရင်းအမှတ် | – မွေးမြူရေးနှင့်ရေလုပ်ငန်းဖွံ့ဖြိုးရေးဘဏ်လီမိတက် ဘဏ်စာရင်းအမှတ်– ၀၀၁၁၁၃၀၀၀၃၀၈၇<br>– မြန်မာ့ရင်းနှီးမြှုပ်နှံမှုနှင့်ကူးသန်းရောင်းဝယ်ရေး ဘဏ်စာရင်းအမှတ်–FDL -100111 |

လျှို့ဝှက်

ပြည်ထောင်စုမြန်မာနိုင်ငံတော်
ကုန်သွယ်မှုမူဝါဒကောင်စီ

၂၀၀၇ ခုနှစ်၊ ဖေဖော်ဝါရီလ(၂၀)ရက်နေ့တွင်ကျင်းပသော ပြည်ထောင်စုမြန်မာနိုင်ငံတော် ကုန်သွယ်မှုမူဝါဒကောင်စီ အစည်းအဝေးအမှတ်စဉ် (၇/၂၀၀၇) မှတ်တမ်းကောက်နုတ်ချက်။

| အစည်းအဝေး အစီအစဉ် | စဉ် | ဆုံးဖြတ်ချက် | ဆောင်ရွက်ရန် |
| --- | --- | --- | --- |
| ၁၀-၈ | ၅၅၁ | (က) အခွန်ကိစ္စများကို ဆောင်ရွက်ပြီးဖြစ်ပါကြောင်း ဘဏ္ဍာရေးနှင့်အခွန်ဝန်ကြီးဌာနမှ တင်ပြချက်အရ လင်းအောင်အင်ဒတ်စရီရယ်အင်(န်)ပရိုဒတ်ရှင် ကုမ္ပဏီလီမိတက်(Lin Aung Industrial & Production Co.,Ltd)မှ ရခိုင်ပြည်နယ်သံတွဲခရိုင်၊တောင်ကုတ်မြို့နယ်၊ ကြာကွင်းကျေးရွာ အုပ်စုကွင်းအမှတ်(၆၇-ခ)၊ဦးပိုင်အမှတ်(၈၂၂)ရှိမြေ ဧက(၃.၀၁)တွင် (၂၅)တန် ကျရေခဲစက်နှင့် တန်(၂၀၀)ဆန့် အအေးခန်းစက်ရုံတည်ဆောက်၍ ရေခဲနှင့်ငါးပုစွန် ပြုပြင်ထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုရန်။<br>(ခ) မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ အရ စီးပွားရေးလုပ်ငန်းစတင်သော နှစ်အပါအဝင် တစ်ဆက်တည်း(၃)နှစ်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့်ပြုရန်။ | မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ ဘဏ္ဍာရေးနှင့်အခွန်ဝန်ကြီးဌာန၊ မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန။ |

ပြည်ထောင်စုမြန်မာနိုင်ငံတော် ကုန်သွယ်မှုမူဝါဒကောင်စီ
စာအမှတ် ....
ရက်စွဲ ၂၃-၂-၀၇

လျှို့ဝှက်

kko/sk/ 23-2-2007

ပြည်ထောင်စုမြန်မာနိုင်ငံတော်
ကုန်သွယ်မှုမူဝါဒကောင်စီ

၂၀၀၇ ခုနှစ်၊ ဖေဖော်ဝါရီလ(၂၀)ရက်နေ့တွင်ကျင်းပသော ပြည်ထောင်စုမြန်မာနိုင်ငံတော် ကုန်သွယ်မှု မူဝါဒကောင်စီ အစည်းအဝေးအမှတ်စဉ် (၇/၂၀၀၇) မှတ်တမ်းကောက်နှုတ်ချက်။

| အစည်းအဝေး အစီအစဉ် | စဉ် | ဆုံးဖြတ်ချက် | ဆောင်ရွက်ရန် |
|---|---|---|---|
| ၁၀-ဂ | ၅၅၁ | (ဂ) အစိုးရအဖွဲ့သို့ဆက်လက်တင်ပြရန်။<br>(ဃ) အဆိုပါ လင်းအောင်အင်ဒတ်စရီရယ်အင်(န်)ပရိုဒတ်ရှင် ကုမ္ပဏီလီမိတက်(Lin Aung Industria&ProductinCo.,Ltd) မှတင်ပြထားသောလုပ်ငန်းအား အမှန်တကယ်ဆောင်ရွက်ခြင်း ရှိမရှိကို စောင့်ကြည့်ရန်။ | |

ပြည်ထောင်စုမြန်မာနိုင်ငံတော်

ကုန်သွယ်မှုမူဝါဒကောင်စီ

၂၀၀၆ခုနှစ်၊ နိုဝင်ဘာလ(၂၉)ရက်နေ့တွင် ကျင်းပသောပြည်ထောင်စုမြန်မာနိုင်ငံတော်ကုန်သွယ်မှုမူဝါဒကောင်စီ အစည်းအဝေးအမှတ်စဉ် (၄၂/၂၀၀၆) မှတ်တမ်းကောက်နှုတ်ချက်။

| အစည်းအဝေး အစီအစဉ် | စဉ် | ဆုံးဖြတ်ချက် | ဆောင်ရွက်ရန် |
|---|---|---|---|
| ၁၃-၁ | ၁ | လင်းအောင်အင်ဒတ်စထရီရယ်အင်(န်)ပရိုဒတ်ရှင်းကုမ္ပဏီလီမိတက် (Lin Aung Industrial & Production Co.,Ltd)မှ (၂၅)တန်ကျ ရေခဲစက်နှင့်တန်(၂၀၀)ဆန့်အအေးခန်းစက်ရုံ တည်ဆောက် ၍ရေခဲနှင့်ငါးပုစွန်ပြုပြင်ထုတ်လုပ် ခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုရန် တင်ပြခြင်းနှင့် စပ်လျဉ်း၍ ပေးဆောင်ရန် ကျန်ရှိနေသော အခွန်ကြွေးကျန်များ အမှန်တကယ်ပေးဆပ်ပြီးခြင်းရှိ မရှိကို ဘဏ္ဍာရေးနှင့်အခွန်ဝန်ကြီးဌာန မှ ပြန်လည်စိစစ်၍ နောက် တစ်ပတ်အစည်းအဝေးတွင် ပြန်လည်တင်ပြရန် ဆုံးဖြတ်ပါသည်။ | မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင် ဘဏ္ဍာရေးနှင့်အခွန်ဝန်ကြီးဌာန မွေးမြူရေးနှင့်ရေလုပ်ငန်း ဝန်ကြီးဌာန |

ပြည်ထောင်စုမြန်မာနိုင်ငံတော် စာအမှတ် ...... ရက်စွဲ ၁-၁၂-၀၆ ကုန်သွယ်မှုမူဝါဒကောင်စီ

လျှို့ဝှက်

WWM / SK 4-12-2006

ပြည်ထောင်စုမြန်မာနိုင်ငံတော်
ကုန်သွယ်မှုမူဝါဒကောင်စီ
ဝန်ကြီးများရုံး
ရန်ကုန်မြို့

၂၀၀၅ခုနှစ် နိုဝင်ဘာလ(၂၉)ရက်နေ့တွင် ကျင်းပသောပြည်ထောင်စုမြန်မာနိုင်ငံတော်ကုန်သွယ်မှုမူဝါဒကောင်စီ အစည်းအဝေးအမှတ်စဉ် (၂၂/၂၀၀၅) မှတ်တမ်းကောက်နှုတ်ချက်။

| အစည်းအဝေး အစီအစဉ် | စာပိုဒ် | ဆုံးဖြတ်ချက် | ဆောင်ရွက်ရန် |
|---|---|---|---|
| ၁၁(က) | ၉၉ | လင်းအောင်အင်ဒက်စထရီယယ်အင်(န်)ပရိုဒက်ရှင် ကုမ္ပဏီလီမိတက် (Lin Aung Industrial & Production Co., Ltd.) မှ (၂၅)တန်ကျ ဒရခဲစက်နှင့် တန်(၂၀၀)ဆန့် အအေးခန်းစက်ရုံတည်ဆောက်၍ ရေခဲနှင့် ငါးပုစွန်ပြုပြင်ထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ရန် အဆိုပြုတင်ပြခြင်း ကိစ္စကို ပြည်ထဲရေးဝန်ကြီးဌာနက စစ်ဆေးပြီးမှ တင်ပြရန် ဆုံးဖြတ်ပါသည်။ | မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင် ပြည်ထဲရေးဝန်ကြီးဌာန |
| ၁၁(ခ) | ၁၀၀ | | |
| ၁၁(ဂ) | ၁၀၁ | | |

လျှို့ဝှက်

## မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရခွင့်ပြုပြီးသည့်အအေးခန်းစက်ရုံစာရင်း

| စဉ် | ပြည်နယ်/တိုင်း/ကုမ္ပဏီအမည် | ဆောင်ရွက်သည့်လုပ်ငန်း | တည်နေရာ |
|---|---|---|---|
| ၁ | **ရန်ကုန်တိုင်း** | | |
| ၁ | အဏ္ဏဝါဒေဝီ ပင်လယ်ငါးဖမ်းကုန်ထုတ်နှင့် အထွေထွေလုပ်ငန်း သမဝါယမအသင်းလီမိတက် | ငါးအအေးခန်းနှင့်ရေခဲစက်ရုံလုပ်ငန်း | ၁၃၆(အေ)၊ မြို့ပတ်လမ်း၊ ဒေါပုံမြို့နယ်။ |
| ၂ | ပင်လယ်ဝံပုလွေကုမ္ပဏီလီမိတက် | အအေးခန်းစက်ရုံတည်ဆောက်၍ သန့်ရှင်းလတ်ဆတ်သော ငါး၊ ပုစွန်များ ပြုပြင်ထုတ်လုပ်ခြင်း လုပ်ငန်း | မြေကွက်အမှတ် (၁၁)၊ မြေတိုင်းရပ်ကွက်အမှတ် (၆၄)၊ စက်မှုဇုန် (၃)၊ ရွှေပြည်သာမြို့နယ်၊ |
| ၃ | မင်းဇာနည်ကုမ္ပဏီလီမိတက် | အအေးခန်းစက်ရုံတည်ဆောက်၍ သန့်ရှင်းလတ်ဆတ်သော ငါး၊ ပုစွန်များ ပြုပြင်ထုတ်လုပ်ခြင်း လုပ်ငန်း | မြေကွက်အမှတ် (၄၁/ခ)၊ မြေတိုင်းရပ်ကွက် (၉)၊ စက်မှုဇုန်(၁)၊လှိုင်သာယာမြို့နယ်၊ |
| ၄ | အဏ္ဏဝါလှိုင်းကုမ္ပဏီလီမိတက် | အအေးခန်းစက်ရုံ ရေခဲစက်ရုံနှင့် ဆိပ်ခံတံတားတည်ဆောက်ခြင်း၊ | မြေကွက်အမှတ် (၅၈၄)၊ မြေတိုင်းရပ်ကွက် (၁၀)၊ စက်မှုဇုန် (၁)၊ လှိုင်သာယာမြို့နယ်။ |
| ၅ | မြိတ်ထိပ်တန်း စက်မှုလုပ်ငန်းကုမ္ပဏီလီမိတက် | တန် (၁၆၀)ဆန့် အအေးခန်း သိုလှောင်ရုံတည်ဆောက်၍ သန့်ရှင်းလတ်ဆတ်သော ငါး၊ ပုစွန် များ ပြုပြင်ထုတ်လုပ်ခြင်းလုပ်ငန်း၊ | ငါးလုပ်ငန်းဦးစီးဌာနပိုင်၊ ကြို့ကုန်းကမ်းနား၊အင်းစိန်မြို့နယ်။ |
| ၆ | ငွေမြန်မာစက်မှုကုမ္ပဏီလီမိတက် | တန် (၅၀)ဆန့် အအေးခန်းစက်ရုံ တည်ဆောက်ခြင်းလုပ်ငန်း၊ | ဗဟိုစံပြငါးဈေးကြီးအတွင်း ပန်းပင်ကြီးလမ်းနှင့် လှိုင်မြစ်ကမ်းဒေါင့်၊ ကြည့်မြင်တိုင်မြို့နယ်။ |
| ၇ | ဟုန်ရှင်းကုမ္ပဏီလီမိတက် | အအေးခန်းစက်ရုံတည်ဆောက်၍ သန့်ရှင်းလတ်ဆတ်သော ငါး၊ ပုစွန်များ ပြုပြင်ထုတ်လုပ်ခြင်းလုပ်ငန်း၊ | ဒဂုံမြို့သစ်ဆိပ်ကမ်းမြို့နယ်၊ စက်မှုဇုန် (၁)။ |
| ၈ | ဖောင်းဆိုင်အထွေထွေရောင်းဝယ်ရေးကုမ္ပဏီလီမိတက် | တန် (၃၀၀)ဆန့် အအေးခန်း စက်ရုံ တည်ဆောက်၍ သန့်ရှင်းလတ်ဆတ်သော ငါး၊ ပုစွန် များ ပြုပြင် ထုတ်လုပ်ခြင်းလုပ်ငန်း၊ | ငါးလုပ်ငန်းဦးစီးဌာနပိုင်၊ မြေတိုင်းရပ်ကွက် အမှတ် ၂/၂၊ ကြို့ကုန်းကမ်းနား၊အင်းစိန်မြို့နယ်။ |
| ၉ | ငါးလုပ်ငန်းနှင့်ပင်လယ်ထွက်ကုန်များ ၂၀၀၀ လီမိတက် | ရေခဲစက်၊ ငါးပုစွန်များ ပြုပြင်ထုတ်လုပ်ခြင်းနှင့် ငါးစည်သွပ်ဗူး ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း၊ | ငါးလုပ်ငန်းဦးစီးဌာနပိုင်၊ မြေတိုင်း ရပ်ကွက် အမှတ် ၂/၂၊ ကြို့ကုန်းကမ်းနား၊အင်းစိန်မြို့နယ်။ |
| ၁၀ | ဗိုလ်သိုင်းနှင့်ညီများကုမ္ပဏီလီမိတက် | အအေးခန်းနှင့်ရေခဲစက်ရုံ တည်ဆောက်၍ သန့်ရှင်းလတ်ဆတ် သောငါး၊ ပုစွန်များ ပြုပြင် ထုတ်လုပ်ခြင်း လုပ်ငန်း၊ | ငါးလုပ်ငန်းဦးစီးဌာနပိုင်၊ မြေတိုင်းရပ်ကွက် အမှတ် ၂/၂၊ ကြို့ကုန်းကမ်းနား၊အင်းစိန်မြို့နယ်။ |

# မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရခွင့်ပြုပြီးသည့်အအေးခန်းစက်ရုံစာရင်း

| စဉ် | ပြည်နယ်/တိုင်း/ကုမ္ပဏီအမည် | ဆောင်ရွက်သည့်လုပ်ငန်း | တည်နေရာ |
|---|---|---|---|
| ၁၁ | အရှေ့တိုင်းစွမ်းအားအပြည်ပြည်ဆိုင်ရာ လီမိတက် | တန် (၃၀၀)ဆန့် အအေးခန်းစက်ရုံနှင့် တန် (၁၀၀)ကျ ရေခဲစက်ရုံလုပ်ငန်း | ငါးလုပ်ငန်းဦးစီးဌာနပိုင်၊ မြေတိုင်း ရပ်ကွက်အမှတ် ၂/၂၊ ကြို့ကုန်းကမ်းနား၊အင်းစိန်မြို့နယ်။ |
| ၁၂ | မြန်မာငါးဘုရင်လီမိတက် | တန် (၂၀၀)ဆန့် အအေးခန်း စက်ရုံတည်ဆောက်၍ သန့်ရှင်းလတ်ဆတ်သော ငါး၊ ပုစွန်များ ပြုပြင်ထုတ်လုပ်ခြင်းလုပ်ငန်း၊ | မြေကွက်အမှတ် (၄)၊ မြေတိုင်းရပ်ကွက် (၆၄)၊ စက်မှုဇုန် (၃)၊ရွှေပြည်သာမြို့နယ်။ |
| ၁၃ | ရတီဦးကုမ္ပဏီလီမိတက် | အအေးခန်း စက်ရုံ လုပ်ငန်း၊ | မြေကွက်အမှတ်(၁၇၄/ခ)၊ စက်မှုဇုန် (၄)၊ တိုးချဲ့ လှိုင်သာယာမြို့နယ်။ |
| ၁၄ | ငါးလုပ်ငန်းနှင့်ပင်လယ်ထွက်ကုန်များ ၂၀၀၀ လီမိတက် | တန် (၂၀၀)ဆန့် အအေးခန်း စက်ရုံတည်ဆောက်၍ လုပ်ငန်းသုံးရန် (၂၀)တန်ကျ ရေခဲစက်နှင့် ငါးပုစွန်များပြုပြင်ထုတ်လုပ်ခြင်းလုပ်ငန်း၊ | ငါးလုပ်ငန်းဦးစီးဌာနပိုင်၊ ဆင်းမင်းလမ်း၊ အလုံ အအေး ခန်းဝင်း အနောက်ဘက်၊ အလုံမြို့နယ်။ |
| ၁၅ | ရန်ကုန်ငါးလုပ်ငန်းဖွံ့ဖြိုးရေးကုမ္ပဏီလီမိတက် | ရေခဲစက်ရုံနှင့်အအေးခန်းစက်ရုံတည်ဆောက်၍ ငါး၊ ပုစွန်များ ပြုပြင်ထုတ်လုပ်ခြင်းလုပ်ငန်း၊ | ငါးလုပ်ငန်းဦးစီးဌာနပိုင်၊ မြေတိုင်းရပ်ကွက် အမှတ် ၂/၂၊ ကြို့ကုန်းကမ်းနား၊အင်းစိန်မြို့နယ်။ |
| ၁၆ | မြင့်မြတ်သောအောင်မြင်မှု အပြည်ပြည်ဆိုင်ရာကုမ္ပဏီလီမိတက် | ရေခဲစက်ရုံနှင့်အအေးခန်းစက်ရုံတည်ဆောက်၍ ငါး၊ ပုစွန်များ ပြုပြင်ထုတ်လုပ်ခြင်းလုပ်ငန်း၊ | မြေကွက်အမှတ် (၁၀၇-၁၁၀)၊ မြေတိုင်းရပ်ကွက် အမှတ် (၃၉-စက်မှု)၊ ရွှေပြည်သာမြို့နယ်။ |
| ၁၇ | ရတနာသိင်္ဂီစက်မှုလုပ်ငန်းကုမ္ပဏီလီမိတက် | ရေထွက်ပစ္စည်းပြုပြင်အေးခဲခြင်းနှင့် ရေခဲစက်ရုံလုပ်ငန်း၊ | မြေကွက်အမှတ် (၁၂၃)၊ မြေတိုင်းရပ်ကွက် (၃၉)၊ စက်မှုဇုန် (၂)၊ရွှေပြည်သာမြို့နယ်။ |
| ၁၈ | ရွှေယမုံထုတ်လုပ်မှုကုမ္ပဏီ မိတက် | တန် (၂၅၀)ဆန့် အအေးခန်းစက်ရုံတည်ဆောက်၍ ငါးပုစွန် များပြုပြင်ထုတ်လုပ်ခြင်း လုပ်ငန်း၊ | မြေကွက်အမှတ် (၁၇၄၁)၊ စက်မှုဇုန် (၄)၊ ဆိပ်ကမ်း သာလမ်း၊ လှိုင်သာယာမြို့နယ်။ |
| ၁၉ | ရတနာသိင်္ဂီကုမ္ပဏီလီမိတက် | တန် (၁၀၀)ဆန့် အအေးခန်းစက်ရုံနှင့် ငါးပုစွန်ပြုပြင်ထုတ်လုပ်ခြင်း လုပ်ငန်း၊ | အမှတ် ၁၀၅/၁၁၁၊ အမရာလမ်း၊ စက်မှုလက်မှုရပ်ကွက်၊ မြောက်ဥက္ကလာပ (စက်မှု-၁ ဝန်ကြီးဌာန ဆေးဝါးနှင့် အိမ်သုံးပစ္စည်း လုပ်ငန်း ပိုင်မြေ) |
| ၂၀ | မြင့်မြတ်ဟိန်းကုမ္ပဏီလီမိတက် | တစ်နေ့လျှင် တန် (၂၀)ကျ ရေခဲမှုန့်လုပ်ငန်းနှင့် တန် (၃၀၀) ဆန့် အအေးခန်းစက်ရုံလုပ်ငန်း၊ | ငါးလုပ်ငန်းဦးစီးဌာနပိုင်၊ မြေတိုင်းရပ်ကွက် အမှတ် ၂/၂၊ ကြို့ကုန်းကမ်းနား၊အင်းစိန်မြို့နယ်။ |

# မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရခွင့်ပြုပြီးသည့်အအေးခန်းစက်ရုံစာရင်း

| စဉ် | ပြည်နယ်/တိုင်း/ကုမ္ပဏီအမည် | ဆောင်ရွက်သည့်လုပ်ငန်း | တည်နေရာ |
|---|---|---|---|
| ၂၁ | အီယွန်အင်ဂျင်နီယာရင်းအင်န်ဂျင်နရယ် ထရိတ်ဒင်းကုမ္ပဏီလီမိတက် | တန် (၁၅၀)ဆန့် အအေးခန်းစက်ရုံ တည်ဆောက်၍ ငါး၊ ပုစွန် ပြုပြင်ထုတ်လုပ်ခြင်းလုပ်ငန်း၊ | မြေကွက်အမှတ် (၃)၊ မြေတိုင်းရပ်ကွက် (၆၄)၊ ရွှေပြည်သာမြို့နယ်။ |
| ၂၂ | ကျော်ဌေးနှင့်ရောင်းရင်းများလီမိတက် | ငါး၊ ပုစွန်ပြုပြင်ထုတ်လုပ်မှုနှင့် တန် (၂၀၀၀)ဆန့်အအေးခန်းစက်ရုံလုပ်ငန်း | မြေကွက်အမှတ် (၃-ဃ) မြေတိုင်းရပ်ကွက်အမှတ် (၉) စက်မှုဇုန် (၆)၊ လှိုင်သာယာမြို့နယ်။ |
| ၂ | **တနင်္သာရီတိုင်း** | | |
| ၁ | မြိတ်ထိပ်တန်းစက်မှုလုပ်ငန်းကုမ္ပဏီလီမိတက် | အအေးခန်းသိုလှောင်ရုံတည်ဆောက်၍ သန့်ရှင်းလတ်ဆတ်သော ငါး၊ ပုစွန်များ ပြုပြင်ထုတ်လုပ်ခြင်းလုပ်ငန်း၊ | ကံဖျား၊ မြို့မရပ်၊မြိတ်မြို့။ |
| ၂ | သီတာရေလုပ်ငန်းကုမ္ပဏီလီမိတက် | ငါးအမှုန့်ကြိတ်စက်ရုံ၊ ရေခဲစက်ရုံနှင့် အအေးခန်းသိုလှောင်ရုံလုပ်ငန်း၊ | အဏ္ဏဝါရပ်၊ ကော့သောင်းမြို့။ |
| ၃ | ပြည့်ဖြိုးထွန်းအင်တာနေရှင်နယ်လီမိတက် | အအေးခန်းသိုလှောင်ရုံတည်ဆောက်၍ သန့်ရှင်းလတ်ဆတ်သော ငါး၊ ပုစွန်များ ပြုပြင်ထုတ်လုပ်ခြင်း၊ | ပအိုင်ကျေးရွာအုပ်စု၊ ကျွန်းစုမြို့နယ်၊ တနင်္သာရီတိုင်း၊ |
| ၄ | အဆောင်ကောင်းစက်မှုလုပ်ငန်းများ ကုမ္ပဏီလီမိတက် | အအေးခန်းသိုလှောင်ရုံတည်ဆောက်၍ သန့်ရှင်းလတ်ဆတ်သော ငါး၊ ပုစွန်များ ပြုပြင်ထုတ်လုပ်ခြင်းလုပ်ငန်း၊ | အင်းလေးမြိုင်စက်မှုဇုန်၊ မြိတ်တောင်ကျေးရွာ၊မြိတ်မြို့။ ရန်ကြီးအောင်လမ်း၊ ရွှေပြည်သာရပ်၊ ကော့သောင်းမြို့။ |
| ၅ | ရွှေဝက်ဝံ ကုမ္ပဏီလီမိတက် | အအေးခန်းစက်ရုံ၊ ငါးအမှုန့်ကြိတ်စက်ရုံနှင့် ရေခဲစက်ရုံလုပ်ငန်း၊ | အိုးလုပ်ပြင်ရပ်၊ မြိတ်တောင်ရပ်ကွက်၊ မြိတ်မြို့။ |
| ၆ | စုပေါင်းညီညာမြိတ်ကုမ္ပဏီလီမိတက် | အအေးခန်းသိုလှောင်ရုံတည်ဆောက်၍ ငါး၊ ပုစွန်များ ပြုပြင်ထုတ်လုပ်ခြင်းလုပ်ငန်း၊ | နောက်လယ်ရပ်ကွက်၊ မြိတ်မြို့။ |
| ၇ | ဗဲင်(န်)တော့(ချ်)ကုမ္ပဏီလီမိတက် | အအေးခန်းစက်ရုံတည်ဆောက်၍ ရေချို၊ ရေငန် ငါး၊ ပုစွန် ဝယ်ယူထုတ်လုပ်ခြင်းလုပ်ငန်း၊ | အိုးလုပ်ပြင်ရပ်၊ အင်းလေးမြိုင်စက်မှုဇုန်၊ မြိတ်မြို့။ |
| ၈ | အဏ္ဏဝါစိုးကုမ္ပဏီလီမိတက် | တန် (၁၅၀)ဆန့် အအေးခန်းစက်ရုံနှင့် တန် (၅၀)ကျ ရေခဲစက်ရုံလုပ်ငန်း၊ | မင်းသံကျေးရွာ၊ ဘုတ်ပြင်းမြို့နယ်၊ |
| | **ဧရာဝတီတိုင်း** | | |
| ၁ | ဖျာပုံပင်လယ်ကျားပိုက်ကုမ္ပဏီလီမိတက် | ငါး၊ ပုစွန်များ အခဲခံ၍ ကုန်ချောထုတ်လုပ်ခြင်းလုပ်ငန်း၊ | ချောင်းတွင်းကျေးရွာ၊ ဖျာပုံမြို့နယ်။ |

## မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရခွင့်ပြုပြီးသည့်အအေးခန်းစက်ရုံစာရင်း

| စဉ် | ပြည်နယ်/တိုင်း/ကုမ္ပဏီအမည် | ဆောင်ရွက်သည့်လုပ်ငန်း | တည်နေရာ |
|---|---|---|---|
| ၂ | ဧရာဝတီရေလုပ်ငန်းလီမိတက် | တန် (၇၅၀) ဆန့် အအေးခန်းစက်ရုံ လုပ်ငန်း၊ | စဥ့်အိုးဘိုမြောက်၊ ရန်ကင်းတောင်လမ်း၊ အမှတ် (၁)ရပ်ကွက်၊ ပုသိမ်မြို့။ |
| ၄ | <u>ရခိုင်ပြည်နယ်</u> | | |
| ၁ | ပတ္တမြားအတိုင်ပင်ခံနှင့် ရောင်းဝယ်ရေး လီမိတက် | အအေးခန်းစက်ရုံတည်ဆောက်၍ ရေခဲစက်နှင့် ငါး၊ ပုစွန်များ ပြုပြင်ထုတ်လုပ်ခြင်း လုပ်ငန်း၊ | သံတော်လီရပ်ကွက်၊ စစ်တွေမြို့နယ်၊ |
| ၂ | လင်းအောင်အင်ဒတ်စ်စထရီ ရယ်လ်အင်န်ပရိုဒတ်ရှင်း ကုမ္ပဏီလီမိတက် | (၂၅)တန်ကျ ရေခဲစက်နှင့် တန်(၁၀၀)ဆန့် အအေးခန်းစက်ရုံ လုပ်ငန်း၊ | လင်းသာကျေးရွာ၊သံတွဲမြို့နယ်။ |
| ၃ | ရွှေသရဝဏ်ရွှေဆောင်ရေလုပ်ငန်း ကုမ္ပဏီလီမိတက် | ရေခဲထုတ်လုပ်ခြင်းနှင့် အအေးခန်း စက်ရုံတည်ဆောက်၍ ငါး၊ ပုစွန်များ ပြုပြင်ထုတ်လုပ်ခြင်း လုပ်ငန်း၊ | အလယ်သံတော်လီရပ်ကွက်၊ စစ်တွေမြို့နယ်၊ ရခိုင်ပြည်နယ်။ |
| ၅ | <u>မွန်ပြည်နယ်</u> | | |
| ၁ | သံလွင်အေးစက်မှုကုမ္ပဏီလီမိတက် | အအေးခန်းစက်ရုံတည်ဆောက်၍ ငါး၊ ပုစွန်များ ပြုပြင်ထုတ်လုပ်ခြင်း လုပ်ငန်း၊ | အစင်ကျေးရွာ၊ ရေးမြို့နယ်။ |

ဘဏ္ဍာရေးနှင့်အခွန်ဝန်ကြီးဌာန
ဝန်ကြီးရုံး

စာအမှတ်၊ ဘ၁-၂/၁၁ ( [illegible] /၂၀၀၇)
ရက်စွဲ ၊ ၂၀၀၇ ခုနှစ်၊ ဖေဖော်ဝါရီလ ၅ ရက်

အကြောင်းအရာ။ လင်းအောင် အင်ဒတ်စထရီရယ်အင်(န်)ပရိုဒက်ရှင်း ကုမ္ပဏီလီမိတက်မှ (၂၅)တန်ကျရေခဲစက်နှင့် တန်(၂၀၀)ဆန့် အအေးခန်းစက်ရုံတည်ဆောက်၍ ရေခဲနှင့်ငါး၊ ပုဇွန်ပြုပြင်ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန် အဆိုပြုတင်ပြခြင်းကိစ္စ

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၈-၁၂-၂၀၀၆ ရက်စွဲပါစာ အမှတ်၊ ရက-၆(က)/မ-၉၅၃/၂၀၀၆(၃၃၃၂-ခ)

၁။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာသော ကိစ္စအပေါ် ပြန်ကြားအပ်ပါသည်။

၂။ လင်းအောင် အင်ဒတ်စထရီရယ်အင်(န်)ပရိုဒက်ရှင်း ကုမ္ပဏီလီမိတက်နှင့် မြန်မာဆန်းရိုက်စ် ကုမ္ပဏီတို့အပေါ် ၂၀၀၅-၂၀၀၆ စည်းကြပ်နှစ်အထိ အပြီးသတ်စည်းကြပ်မှုများ ဆောင်ရွက်ပြီးဖြစ်ပါကြောင်းနှင့် နှစ်အလိုက်စည်းကြပ်မှုအရ တောင်းခံအခွန်များအားလုံးကိုလည်း ပေးသွင်းပြီးဖြစ်ပါကြောင်း စည်းကြပ်ကောက်ခံမှုအခြေပြဇယားဖြင့် ပူးတွဲပေးပို့ပြန်ကြားပါသည်။

ဒုတိယဝန်ကြီး(ကိုယ်စား)
(အောင်အောင်၊ အဖွဲ့ခွဲမှူး)

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

မိတ္တူကို-

ပြည်တွင်းအခွန်များဦးစီးဌာန

YEE(B.1)

## Lin Aung Industrial & Production Co Ltd အပေါ်အခွန်စည်းကြပ်ပြီးစီးမှုအခြေအနေ

| | စည်းကြပ်နှစ် | ဝင်ငွေခွန် | | ကုန်သွယ်လုပ်ငန်းခွန် | | မှတ်ချက် |
|---|---|---|---|---|---|---|
| | | စည်းကြပ်မှု | ပေးသွင်းမှု | စည်းကြပ်မှု | ပေးသွင်းမှု | |
| ၁ | ၁၉၉၇-၁၉၉၈ | အမှုပိတ် | | | | စည်းကြပ်ပြီး |
| ၂ | ၁၉၉၈-၁၉၉၉ | ။ | | | | ။ |
| ၃ | ၁၉၉၉-၂၀၀၀ | ။ | | | | ။ |
| ၄ | ၂၀၀၀-၂၀၀၁ | ။ | | | | ။ |
| ၅ | ၂၀၀၁-၂၀၀၂ | K ၄၁၁၄၁၂၈<br>$ ၁၈၆၁ | ပေးသွင်းပြီး | $၅၂၈၇ | ပေးသွင်းပြီး | ။ |
| ၆ | ၂၀၀၂-၂၀၀၃ | K ၂၁၁၆၄၅၉<br>$ ၃၉၇ | ။ | K ၁၇၃၅၉၀<br>$ ၃၆၇၂၁ | ။ | ။ |
| ၇ | ၂၀၀၃-၂၀၀၄ | K ၇၂၈၆၇၉၈၉ | ။ | $၃၅၁၂၅၈ | ။ | ။ |
| ၈ | ၂၀၀၄-၂၀၀၅ | K ၂၈၄၂၀၀၀၀ | ။ | $၃၅၆၆၈၂<br>EU ၂၇၀၈. ၇၅<br>K ၉၄၀၁၀၆၀ | ။ | ။ |
| ၉ | ၂၀၀၅-၂၀၀၆ | K ၈၇၁၉၁၂၅၄<br>$၅၆၆၄ | ။ | $၄၅၃၉၉၃ | ။ | ။ |
| ၁၀ | ၂၀၀၆-၂၀၀၇ | K ၂၀၀၀၀၀၀<br>$၁၂၃၈၈၇ | ကြိုတင်ခွန် | $၄၉၅၅၄၉ | ကြိုတင်ခွန် | စာရင်းရှင်းလင်း<br>ဆောင်ရွက်ဆဲ |

## Myanmar Sunrise Co Ltd အပေါ်အခွန်စည်းကြပ်ပြီးစီးမှုအခြေအနေ

| စဉ် | စည်းကြပ်နှစ် | ဝင်ငွေခွန် | | ကုန်သွယ်လုပ်ငန်းခွန် | | မှတ်ချက် |
|---|---|---|---|---|---|---|
| | | စည်းကြပ်မှု | ပေးသွင်းမှု | စည်းကြပ်မှု | ပေးသွင်းမှု | |
| ၃ | ၁၉၉၉-၂၀၀၀ | K ၄၇၈၆၀၁၄<br>$ ၇၈၁၆၇ | ပေးသွင်းပြီး | $၈၃၁၁၁. ၈၄ | ပေးသွင်းပြီး | စည်းကြပ်ပြီး |
| ၄ | ၂၀၀၀-၂၀၀၁ | K ၁၁၅၁၀၄၉<br>$ ၉၈၈၆၂ | ပေးသွင်းပြီး | $၃၂၅၄၈၃ | ပေးသွင်းပြီး | ။ |
| ၅ | ၂၀၀၁-၂၀၀၂ | K ၁၀၉၈၀၇၀၂<br>$ ၁၃၇၂၉၂ | ပေးသွင်းပြီး | $၃၀၂၅၈၃. ၇၃ | ပေးသွင်းပြီး | ။ |
| ၆ | ၂၀၀၂-၂၀၀၃ | K ၆၂၉၁၆၉၂၆<br>$ ၁၂၇၄၃၁ | ။ | $၃၅၄၀၄၀. ၃၆ | ။ | ။ |
| ၇ | ၂၀၀၃-၂၀၀၄ | K ၃၉၉၆၉၇၃ | ။ | | ။ | ။ |
| ၈ | ၂၀၀၄-၂၀၀၅ | အမှုပိတ် | | | | |
| ၉ | ၂၀၀၅-၂၀၀၆ | အမှုပိတ် | | | | |
| ၁၀ | ၂၀၀၆-၂၀၀၇ | အမှုပိတ် | | | | |

လျှို့ဝှက်

# ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
## ပြည်ထဲရေးဝန်ကြီးဌာန
## (ဝန်ကြီးရုံး)

စာအမှတ်၊ ၃ / ၄-၁ / ဦး ၁
ရက်စွဲ၊ ၂၀၀၅ ခုနှစ်၊ ဩဂုတ်လ၊ ၆ ရက်

သို့
အတွင်းရေးမှူး
ကုန်သွယ်မှုမူဝါဒကောင်စီ
ဝန်ကြီးများရုံး

အကြောင်းအရာ။ **Lin Aung Industrial & Production Co., Ltd နှင့်ပတ်သက်၍ စိစစ်ရရှိချက်အား တင်ပြခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ ကုန်သွယ်မှုမူဝါဒကောင်စီ၊ ဝန်ကြီးများရုံး၏ ၉-၇-၂၀၀၅ ရက်စွဲပါစာအမှတ် အမစ/ကသ/၃/၂၂(၆၀၀/၂၀၀၅)

၁။ Lin Aung Industrial & Production Co., Ltd မှ (၂၅)တန်ကျရေခဲစက်နှင့် တန်(၂၀၀)ဆန့်အအေးခန်း စက်ရုံတည်ဆောက်၍ ရေခဲနှင့်ငါးပုစွန်ပြုပြင်ထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ရန် အဆိုပြုတင်ပြချက်အား ၂၉-၆-၂၀၀၅ နေ့တွင်ကျင်းပသော ကုန်သွယ်မှုမူဝါဒကောင်စီ၏ အစည်းအဝေးအမှတ်စဉ်(၂၂/၂၀၀၅)၊ အစီအစဉ် ၁၁(က)၊ အမှတ်စဉ်(၉၉)အရ စိစစ်ခဲ့ပါသည်။

၂။ ယင်းသို့စိစစ်ရာ Lin Aung Industrial & Production Co., Ltd သည် ၁၉၉၆ ခုနှစ် မှစ၍ မှတ်ပုံတင်အမှတ်၊ ၃၃၄/၁၉၉၆-၉၇(၁၆-၈-၉၆)ဖြင့် တရားဝင်မှတ်ပုံတင်ပြီး ရေလုပ်ငန်းလုပ်ကိုင်ခဲ့ကြောင်း၊ အစုရှယ်ယာတစ်စုလျှင် ငွေကျပ် ၁၀၀၀၀/-(ကျပ်တစ်သောင်း)သတ်မှတ်၍ စုစုပေါင်းငွေကျပ်သိန်း(၁၀၀၀) ရင်းနှီးမြှုပ်နှံခဲ့ကြောင်း၊ မန်နေဂျင်း ဒါရိုက်တာမှာ ဦးလောဒီ ဖြစ်ပြီး ဒါရိုက်တာအဖွဲ့ဝင်များမှာ ၎င်း၏ညီနှင့်သားတို့ဖြစ်ကြောင်း၊ ကုမ္ပဏီရုံးခန်းကို ရန်ကုန်မြို့၊ ကမာရွတ်မြို့နယ်၊ အောင်မြေသာစည်အိမ်ယာ၊ (၁)ရပ်ကွက်၊ ထန်းတပင်လမ်း၊ အမှတ်(၆၀/ခ)တွင် ဖွင့်လှစ်ထားရှိကြောင်း၊ ကုမ္ပဏီအနေဖြင့် ပုစွန်များကိုဝယ်ယူစုဆောင်းခြင်း၊ ပြုပြင်ထုတ်လုပ်ခြင်းဖြင့် လည်းကောင်း၊ ကုမ္ပဏီပိုင်ရွှေပြည်စိုး၊ အောင်ချစ်သိန်း၊ ပိုင်ဖြိုးသူ၊ အောင်ပြည့်စုံရေယာဉ်(၄)စီးဖြင့် ပင်လယ်ထွက်ဖမ်းဆီးရမိသော ငါး၊ ပုစွန်များကို ပြုပြင် ထုတ်လုပ်ခြင်းဖြင့် လည်းကောင်း၊ ရရှိသောကုန်ချောများကို ပြည်ပသို့တင်ပို့ရောင်းချခဲ့ ကြောင်း၊ ကုမ္ပဏီသည် ၁၉၉၈ ခုနှစ်ခန့်တွင် ဂျပန်နိုင်ငံရှိ Matsuoka Co.,Ltd နှင့် အကျိုးတူပူးပေါင်းကာ Myanmar Sunrise Co.,Ltd အမည်ဖြင့် ၂၀၀၂ ခုနှစ်ထိ ရေလုပ်ငန်းဆောင်ရွက်ခဲ့ကြောင်း၊ Myanmar Sunrise Co.,Ltd အနေဖြင့် လုပ်ငန်းဆောင်ရွက်ခဲ့မှုအပေါ် နိုင်ငံတော်သို့ပေးဆောင်ရန်အခွန်ငွေ ၂၀၀၀-၂၀၀၁ ဘဏ္ဍာနှစ်အတွက် အမေရိကန်ဒေါ်လာ(၁၂၇၂၉၂)နှင့် ၂၀၀၁-၂၀၀၂ ဘဏ္ဍာနှစ်အတွက် အမေရိကန်ဒေါ်လာ(၁၂၇၄၃၁)ကျန်ရှိနေ ကြောင်းသိရှိရပါသည်။

၃။ Lin Aung Industrial & Production Co., Ltd သည် ၎င်း၏ရေလုပ်ငန်းကိုဆောင်ရွက်ရာတွင် မြန်မာနိုင်ငံ သားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ ရင်းနှီးမြှုပ်နှံငွေ(၂၀. ၁၄၆)သန်းဖြင့် ရခိုင်ပြည်နယ်၊ သံတွဲမြို့နယ်၊ လင်းသာရင်

လျှို့ဝှက်



ကွက်၊ ကွင်းအမှတ် ၂၅(က)ရှိ မြေ(၃. ၈၆)ကေပေါ်တွင် (၂၅)တန်ကျရေခဲစက်နှင့် တန်(၁၀၀)ဆန့်အအေးခန်းစက်ရုံ တည်ဆောက်ပြီး လုပ်ငန်းများဆောင်ရွက်ခဲ့ကြောင်း၊ ယင်းလုပ်ငန်းနှင့်ပတ်သက်၍ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့်သက်သာခွင့်ပြုရန် ၁၆-၁-၂၀၀၂ ရက်စွဲဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လျှောက်ထားခဲ့ရာ ၅-၂-၂၀၀၂ ရက်စွဲပါခွင့်ပြုမိန့်အမှတ်၊ မနသ ၅၃၁/၂၀၀၂ ရရှိခဲ့ကြောင်း၊ ကုမ္ပဏီအနေဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၂ နှင့် ၁၃ အရ လုပ်ငန်းစတင်သည့် ၂၀၀၂ ခုနှစ်အပါအဝင် တစ်ဆက်တည်း(၃)နှစ်အတွက် အခွန်ကင်းလွတ်သက်သာခွင့်ရရှိခဲ့သော်လည်း ပုစွန်ပို့ကုန်ဝင်ငွေဖြင့် ဒီဇယ်ဆီများပြန်လည်တင်သွင်းရောင်းချခဲ့သဖြင့် အခွန်ကင်းလွတ်ခွင့်မရှိတော့ကြောင်း၊ သို့ဖြစ်၍ နိုင်ငံတော်သို့ ၂၀၀၂-၂၀၀၃ ဘဏ္ဍာနှစ်မှ ၂၀၀၄-၂၀၀၅ ဘဏ္ဍာနှစ်ထိအခွန်ငွေများပေးဆောင်ရန်ကျန်ရှိနေကြောင်း၊ ကုမ္ပဏီသည် ၂၀၀၂-၂၀၀၃ ဘဏ္ဍာနှစ်အတွက် [illegible]ဝင်အခွန်ငွေအဖြစ် ၁-၅-၂၀၀၅ နေ့တွင် ငွေကျပ်သိန်း (၁၅၀)သာပေးဆောင်ထားကြောင်း၊ ယင်းသို့အခွန်ငွေများရှင်းလင်းခြင်းမပြုဘဲ ၂၀၀၅ ခုနှစ်၊ ဇွန်လအတွင်း ရခိုင်ပြည်နယ်၊ သံတွဲခရိုင်၊ တောင်ကုတ်မြို့နယ်၊ ကြိုးကြာကွင်းကျေးရွာအုပ်စု၊ ကွင်းအမှတ် (၆၇/ခ)၊ ဦးပိုင်အမှတ်(၈၂၂)ရှိ (၃. ၀၁)ကေပေါ်တွင် ရင်းနှီးမြှုပ်နှံငွေ(၁၄၄)သန်းဖြင့် (၂၅)တန်ကျရေခဲစက်နှင့် တန်(၂၀၀)ဆန့်အအေးခန်းစက်ရုံ(၁)ရုံကို ထပ်မံတိုးချဲ့လုပ်ကိုင်မည်ဖြစ်ကြောင်း၊ ယင်းလုပ်ငန်းအတွက် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေအရ အခွန်ကင်းလွတ်သက်သာခွင့်ပြုရန် ၁၆-၆-၂၀၀၅ နေ့တွင် တင်ပြလျှောက်ထားဆဲဖြစ်ကြောင်း၊ မန်နေဂျင်းဒါရိုက်တာ ဦးလောဒီ အမည်ဖြင့်မြန်မာ့ရင်းနှီးမြှုပ်နှံမှုနှင့်ကူးသန်းရောင်းဝယ်ရေးဘဏ်ရှိ ငွေစာရင်းအမှတ် FDL-10-0111 တွင် ၆-၇-၂၀၀၅ နေ့ထိ လက်ကျန်ငွေအမေရိကန်ဒေါ်လာ(၈၁၀၄၇၅. ၀၇)နှင့် ကမ္ဘောဇဘဏ်ရှိငွေစာရင်းအမှတ်(၀၂၁၁၁၃၀၀၀၀၅၈၅)တွင် ၂၂-၇-၂၀၀၅ နေ့ထိ လက်ကျန်ငွေ ၅၀၀၀၀/-(ကျပ်ငါးသောင်း)ရှိကြောင်းသိရှိရပါသည်။

၄။ အထက်ပါစစ်ဆေးတွေ့ရှိချက်များအရ Lin Aung Industrial & Production Co., Ltd သည် ၁၉၉၆ ခုနှစ်မှစ၍ တရားဝင်မှတ်ပုံတင်ပြီး ရေလုပ်ငန်းများလုပ်ကိုင်ခဲ့ရာတွင် ဂျပန်နိုင်ငံရှိ Matsuoka Co.,Ltd နှင့် အကျိုးတူပူးပေါင်းလုပ်ကိုင်ခဲ့သည့် Myanmar Sunrise Co.,Ltd အမည်ဖြင့် နိုင်ငံတော်သို့အခွန်ငွေပေးဆောင်ရန် ၂၀၀၀-၂၀၀၁ ဘဏ္ဍာနှစ်အတွက် အမေရိကန်ဒေါ်လာ(၁၂၇၂၉၂)နှင့် ၂၀၀၁-၂၀၀၂ ဘဏ္ဍာနှစ်အတွက် အမေရိကန်ဒေါ်လာ (၁၂၇၄၃၁)ကျန်ရှိကြောင်း၊ ထို့အပြင် ၂၀၀၂ ခုနှစ်အတွင်း သံတွဲမြို့နယ်၊ လင်းသာရပ်ကွက်တွင် ပထမဖွင့်လှစ်လုပ်ကိုင်ခဲ့သည့် (၂၅)တန်ကျရေခဲစက်နှင့် တန်(၁၀၀)ဆန့် အအေးခန်းစက်ရုံအနေဖြင့် ၂၀၀၂-၂၀၀၃ မှ ၂၀၀၄-၂၀၀၅ ဘဏ္ဍာနှစ်အထိ အမေရိကန်ဒေါ်လာနှင့် မြန်မာကျပ်ငွေအခွန်ငွေများပေးရန်ကျန်ရှိနေကြောင်း၊ ၂၀၀၅ ခုနှစ်အတွင်း တောင်ကုတ်မြို့နယ်၊ ကြိုးကြာကွင်းအုပ်စု၊ ကွင်းအမှတ်(၆၇/ခ)တွင် ဒုတိယစက်ရုံအဖြစ်(၂၅)တန်ကျရေခဲစက်နှင့် တန်(၂၀၀)ဆန့် အအေးခန်းစက်ရုံထပ်မံဆောက်လုပ်၍ လုပ်ငန်းဆောင်ရွက်မည်ဖြစ်ကြောင်းနှင့် ယင်းတိုးချဲ့လုပ်ငန်းအတွက် အခွန်သက်သာကင်းလွတ်ခွင့်ပြုပါရန် ၁၆-၆-၂၀၀၅ နေ့တွင် တင်ပြထားဆဲဖြစ်ကြောင်း စုံစမ်းသိရှိချက်များအား အသိပေးအကြောင်းကြားအပ်ပါသည်။

(ဗိုလ်ချုပ်မောင်ဦး)
ဝန်ကြီး

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန
ဝန်ကြီးရုံး

တိကျ မှန် မြန်

ရိုးသားကြိုးစား[illegible]ဖြင့်နိုင်ငံတည်

• ဝန်ထမ်းဟူသည်ပါတီနိုင်ငံရေးနှင့်ကင်းရှင်းရမည်

စာအမှတ်၊ ၁/၂၀၀(ည)/၅၁၀၀/ ၄၇၉
ရက်စွဲ၊ ၂၀၀၅ခုနှစ်၊ မတ်လ( ၃၁ )ရက်

အကြောင်းအရာ။ <u>သဘောထားမှတ်ချက်ပြန်လည်တင်ပြခြင်း</u>

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၇-၂-၂၀၀၅) ရက်စွဲပါစာအမှတ်၊ ၇က-၆(က)/မ-၉၅၃/၂၀၀၅(၁၅၇၆-ဃ)

၁။ လင်းအောင်အင်ဒတ်စထရီယယ်အင်(န်)ပရိုဒတ်ရှင်းကုမ္ပဏီလီမိတက်(LIN AUNG INDUSTRIAL & PRODUCTION CO. LTD) မှရခိုင်ပြည်နယ်သံတွဲခရိုင်၊ တောင်ကုတ်မြို့နယ် ကြိုးကြာကွင်းကျေးရွာအုပ်စု၊ကွင်းအမှတ်(၆၇-ခ)ဦးပိုင်အမှတ်(၈၂၂)ရှိ မြေ(၃.၀၁)ဧကပေါ်တွင်(၂၅)တန်ကျရေခဲစက်နှင့် တန်(၂၀၀)ဆန့်အအေးခန်းစက်ရုံ တည်ဆောက်ပြီး၊ ငါး/ပုစွန်ပြုပြင်ထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ တိုးချဲ့ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြခြင်းနှင့်စပ်လျဉ်း၍၊ အဆိုပြုမြေနေရာတွင် လုပ်ငန်းဆောင်ရွက်ရန်သင့်/မသင့်၊ လုပ်ငန်းမြေဧရိယာ လုံလောက်မှုရှိ/မရှိ၊ ပတ်ဝန်းကျင်ညစ်ညမ်းမှုရှိ/မရှိ စသည့်ကျွမ်းကျင်မှုပိုင်းဆိုင်ရာအပေါ် မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန၏သဘောထားပြန်ကြားပေးရန်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ကရည်ညွှန်းပါစာဖြင့်ညွှန်ကြားခဲ့ပါသည်။

၂။ အဆိုပါကုမ္ပဏီ၏ လုပ်ငန်းဆောင်ရွက်ရန် အဆိုပြုတင်ပြချက်နှင့်စပ်လျဉ်း၍ မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန၏တွေ့ရှိသုံးသပ်ချက်အားအောက်ပါအတိုင်းတင်ပြအပ်ပါသည်-

(က) အဆိုပြုထားသောကုမ္ပဏီသည် ကုမ္ပဏီမှတ်ပုံတင်အမှတ် (မနသ-၅၃၁/၂၀၀၂)ဖြင့်ဖွဲ့စည်းထားသည့်တိုင်းရင်းသားပိုင်ကုမ္ပဏီတစ်ခုဖြစ်ပြီး၊ ၎င်းတို့တိုးချဲ့ဆောင်ရွက်မည့်(၂၅)တန်ကျရေခဲစက်ရုံနှင့်တန်(၂၀၀)ဆန့်အအေးခန်းစက်ရုံတည်ဆောက်၍ ငါး/ပုစွန်ပြုပြင်ထုတ်လုပ်ခြင်း၊ ပြည်ပတင်ပို့ခြင်းလုပ်ငန်းသည် ပုဂ္ဂလိကရေလုပ်ငန်းဖွံ့ဖြိုးတိုးတက်ရေးကို အထောက်အကူဖြစ်စေပါသည်။ ၎င်းအပြင်မြန်မာနိုင်ငံသားများအတွက် အလုပ်အကိုင်အခွင့်အလမ်းများရရှိစေခြင်း၊ လုပ်ငန်းဆိုင်ရာစက်မှုနည်းပညာများတိုးပွားရရှိစေမည် ဖြစ်ခြင်းတို့ကြောင့် ကုမ္ပဏီ၏စက်ရုံထူထောင်လိုခြင်းကိုအားပေးသင့်ပါသည်။

(ခ) နိုင်ငံတော်၏ရေထွက်ပစ္စည်းအရည်အသွေးမြှင့်တင်ရေးအတွက်လိုအပ်လျက်ရှိသောအအေးခန်းစက်ရုံတည်ဆောက်နိုင်မည်ဖြစ်သဖြင့် နိုင်ငံမှထုတ်လုပ်သည့် ရေထွက်ပစ္စည်းများအားကမ္ဘာ့ရောင်းတမ်းဝင်ရေထွက်ပစ္စည်းအဖြစ်ပြုပြင်ထုပ်ပိုးပြီး၊ ပြည်ပသို့တင်ပို့ရောင်းချခြင်းဖြင့်နိုင်ငံတော်၏ပို့ကုန်ပမာဏနှင့်တန်ဖိုးပါတိုးတက်ရရှိလာမည်ဖြစ်ပါသည်။ ၎င်းအပြင်ပြည်ပတင်ပို့ရောင်းချခြင်းမှရရှိသည့်နိုင်ငံခြားငွေ (Export Proceeds) အပေါ်တွင် နိုင်ငံတော်မှကောက်ခံရယူသည့်အခွန်အခအပါအဝင်နိုင်ငံတော်အတွက်နိုင်ငံခြားငွေတိုးတက်ရရှိလာမည်ဖြစ်ပါသည်။

